





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၀၉ /၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၂၀ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်နန်းခင်မြင့်ရီ

(ခ) **အဘ အမည်** ဦးအိုက်ကြူး

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/ကမန(နိုင်) ၀၀၁၀၈၃

(ဃ) **နေရပ်လိပ်စာ** အမှတ် ၅၃/၅၄၊ စက်ဆရာဦးထွန်းလမ်း၊ ရွှေပြည်သာစက်မှုဇုန်(၄)၊ အင်းစိန်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင် နှင့် ဘုရင်မ ကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ရာဘာအစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်း နှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း၊ မွန်ပြည်နယ်၊ သထုံခရိုင်၊ သထုံမြို့နယ်၊ ညောင်ချောင်း ရာဘာခြံ၊ အနန်းပင်ကျေးရွာ အုပ်စု၊ အကွက်အမှတ် (၉၈၀ ဃ)၊ အနန်းပင်စားကျက်ကွင်း၊ ဦးပိုင်အမှတ်(၁)၊ အကွက်အမှတ် (၉၈၀ ဂ)၊ အင်းကွဲရွာကွင်း၊ ဦးပိုင်အမှတ်(၉၂)၊ အကွက် အမှတ်(၉၈၀ ခ)၊ အင်းကွဲရွာမြောက်ကွင်း၊ ဦးပိုင်အမှတ်(၂၁)၊ အကွက်အမှတ်(၉၈၀ က)၊ အနန်းပင်စားကျက်ကွင်း၊ ဦးပိုင်အမှတ်(၁၂၄)၊ စခန်းကြီးကျေးရွာအုပ်စု၊ အကွက်အမှတ် (၆၇၉)၊ ညောင်ချောင်းကွင်း၊ ဦးပိုင်အမှတ်(၈၅၊ ၈၇)ရှိ မြေဧရိယာ(၁၅၀၅.၆၁)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၉၁၉.၀၀ သန်း( အမေရိကန်ဒေါ်လာ ၀.၃၇ သန်း အပါအဝင် စုစုပေါင်း ကျပ် ကိုးရာ တစ်ဆယ့် ကိုးသန်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** -

(ည) ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုသည့် သက်တမ်း ၂၅ နှစ်

20.9.16

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်



ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၆ /၂၀၁၆ (မနသ)
၂၀၁၆ ခုနှစ် စက်တင်ဘာလ ၂၀ ရက်

၁။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်း ဘုရင်နှင့် ဘုရင်မ ကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်) သည် အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန (ကျိုက်ထို)၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် ညောင်ချောင်း ရာဘာခြံအား စိုက်ပျိုးထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် မွန်ပြည်နယ်၊ သထုံခရိုင်၊ သထုံမြို့နယ်၊ ညောင်ချောင်း ရာဘာခြံ၊ အနန်းပင်ကျေးရွာအုပ်စု၊ အကွက်အမှတ် (၉၈၀ဃ)၊ အနန်းပင်စားကျက်ကွင်း၊ ဦးပိုင်အမှတ်(၁)ရှိ မြေ (၅၂၄.၃၂)ဧက အနက် မြေ (၄၉၆)ဧက၊ အကွက်အမှတ်(၉၈၀ဂ)၊ အင်းကွဲရွာကွင်း၊ ဦးပိုင်အမှတ်(၉၂)ရှိ မြေ (၄၉၄.၄၁)ဧက အနက် မြေ (၄၉၂)ဧက၊ အကွက်အမှတ် (၉၈၀ခ)၊ အင်းကွဲရွာမြောက်ကွင်း၊ ဦးပိုင်အမှတ်(၂၁)ရှိ မြေ (၂၈၈.၂၄)ဧက အနက် မြေ (၂၃၅)ဧက၊ အကွက်အ မှတ်(၉၈၀က)၊ အနန်းပင်စားကျက်ကွင်း၊ ဦးပိုင်အမှတ် (၁၂၄)ရှိ မြေ (၂၉၉.၈၃)ဧက အနက် မြေ (၁၇၂)ဧက၊ စခန်းကြီးကျေးရွာအုပ်စု၊ အကွက်အမှတ် (၆၇၉)၊ ညောင်ချောင်းကွင်း၊ ဦးပိုင် အမှတ်(၈၇)ရှိ မြေ (၂၀၅.၃၆)ဧက အနက် မြေ (၉၅.၆၁)ဧက နှင့် အကွက်အမှတ်(၆၇၉)၊ ညောင်ချောင်းကွင်း၊ ဦးပိုင်အမှတ်(၈၅)ရှိ မြေ (၁၅.၀၀)ဧက စုစုပေါင်း မြေဧရိယာ (၁၅၀၅.၆၁)ဧကတွင် ရာဘာ အစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်းနှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်နန်းခင်မြင့်ရီ(အဘ- ဦးအိုက်ကြူး)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြချက်အား ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၉ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်း ဘုရင်နှင့် ဘုရင်မ ကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)အား ရာဘာ အစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်း နှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၂၀၉/၂၀၁၆ ကို ထုတ်ပေး လိုက်သည်။

ကန့်သတ်

၃။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါလုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင် တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၅။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု နှင့် ပြည်တွင်းရောင်းချမှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၆။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၂၇) စက်မှုကုန်ကြမ်းဌာန (ကျိုက်ထို) နှင့် ချုပ်ဆိုထားသည့် ရာဘာစိုက်ပျိုး ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြု လုပ်ငန်းများ၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၈။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာ

တွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ကနဦး လုပ်ကိုင်မည့်ကာလ ၂၅ နှစ် ပြည့်ပြီးနောက် ထပ်မံသက်တမ်းတိုးလိုပါက "Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်း ဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)"က သက်တမ်း မကုန်ဆုံးမီ ၆ လ ကြိုတင်ပြီး နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်၍ တစ်ကြိမ်လျှင် ၅ နှစ်စီဖြင့် ၂ ကြိမ် သက်တမ်းတိုး စာချုပ် ချုပ်ဆိုနိုင်သည်။

၁၀။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်း ဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် စာချုပ်သက်တမ်း မကုန်မီ စာချုပ်အား ရပ်စဲ လိုပါက ရပ်စဲလိုကြောင်း စာချုပ်ဝင်တစ်ဖက်ဖက်မှ အခြားတစ်ဖက်ဖက်သို့ ၆ လ ကြိုတင်၍ နို့တစ်စာပေးပို့ရမည်။ စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးသို့ တင်ပြ အတည်ပြုချက်ရပြီးမှသာ တရားဝင်စာချုပ်ရပ်စဲခွင့်ရှိပြီး စာချုပ်ရပ်စဲခွင့် မရသေးမီကာလအထိ ပေးဆောင်ရန်ရှိသော လစာနှင့်စရိတ်များကို ရာဘာစိုက်ပျိုး လုပ်ကိုင်ခွင့်ရသူက ပေးဆောင်ရမည်။ စာချုပ်ရပ်စဲသည့်အချိန်မှစ၍ လုပ်ကိုင်ခွင့်ရသူသည် အကျိုးတူ လုပ်ကိုင်နေသည့် စိုက်မြေဧရိယာမှ မိမိ၏ ပစ္စည်းနှင့်လူ မချန်ရစ်ဘဲ အသာတကြည် ထွက်ခွာဖယ်ရှားပေးရမည်။

၁၁။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်း ဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်း ဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရန် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ကို ရေးဆွဲတင်ပြရန်နှင့် ဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သက်ဆိုင်ရာ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၃။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၄။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများ အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၅။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် ပုဂ္ဂလိကစက်မှု လုပ်ငန်း

ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၇။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏ၊ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၉။ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာရမည်။

၂၀။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်

မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်း ခံရမည်။

၂၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ကျော်ဝင်း)

ဒု ဥက္ကဋ္ဌ

စာအမှတ်၊ မရက- ၂/မ- ၂၃၄ /၂၀၁၆ ( ၇၀၃-က )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၂၀ ရက်

**ဖြန့်ဝေခြင်း -**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ Jade King & Queen Gems & Jewellery Company Limited (ကျောက်စိမ်း ဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာ ကုမ္ပဏီလီမိတက်)